## Myanmar Edible Oil Industrial Public Corporation (MEICO) Limited မှ BOT စနစ်ဖြင့် စားသုံးဆီနှင့် ဆီထွက်သီးနှံကုန်ပစ္စည်းများ တင်/ချ ခေတ်မီဘက်စုံသုံး အပြည်ပြည်ဆိုင်ရာဆိပ်ခံတံတား နှင့်ဆက်စပ်သော စီးပွားရေးအဆောက်အအုံများအား တည်ဆောက်၍ ငှားရမ်းခြင်းလုပ်ငန်းဆောင်ရွက်ရန် ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်ကြာချိန်

| စဥ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁။ | အဆိုပြုချက်လက်ခံရရှိခြင်း | ၂၆-၂-၂၀၁၆ | - | - |
| ၂။ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၂၃-၂-၂၀၁၆ | ၁၄-၃-၂၀၁၆ | (၂၁) ရက် |
| | (ဂ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၂၂-၂-၂၀၁၆ | ၁၀-၃-၂၀၁၆ | (၁၇) ရက် |
| | (ဃ) မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း | ၂၃-၂-၂၀၁၆ | ၈-၃-၂၀၁၆ | (၁၅) ရက် |
| ၃။ | PAT အစည်းအဝေး (၉/၂၀၁၆) (၂၉-၂-၂၀၁၆)သို့ တင်ပြခြင်း | ၂၉-၂-၂၀၁၆ | | |
| ၄။ | PAT အစည်းအဝေးဆုံးဖြတ်ချက် ကုမ္ပဏီသို့ ပြန်ကြားသည့် ရက်စွဲ | ၇-၃-၂၀၁၆ | | |
| ၅။ | ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏သဘောထားမှတ်ချက်နှင့်အညီ ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပေးပို့ခြင်း | ၃-၃-၂၀၁၆ | | |
| ၆။ | ကုမ္ပဏီမှအဆိုပြုလွှာ(၇)စုံ ပြန်လည်ပေးပို့ခြင်း PAT အစည်းအဝေးဆုံးဖြတ် ချက်နှင့်အညီ ကုမ္ပဏီမှ ပြင်ဆင်တင်ပြခြင်း | ၁၄-၃-၂၀၁၆ | | |
| ၇။ | ကော်မရှင်အစည်းအဝေးသို့ တင်ပြမည့် အကြိမ်/နေ့ရက် | ၁၀/၂၀၁၆ | | |
| ၈။ | **စုစုပေါင်းကြာမြင့်ရက်** | **(၁၈) ရက်** | | |

ကုမ္ပဏီအမည် - Myanmar Edible Oil Industrial Public Corporation (MEICO) Limited

အဖွဲ့အစည်းပုံသဏ္ဍာန် - လီမိတက်ကုမ္ပဏီ (Private Company ဖြစ်ပါသည်။)

လုပ်ငန်းအမျိုးအစား - BOT စနစ်ဖြင့် စားသုံးဆီနှင့် ဆီထွက်သီးနှံကုန်ပစ္စည်းများ တင်/ချ ခေတ်မီ ဘက်စုံသုံး အပြည်ပြည်ဆိုင်ရာဆိပ်ခံတံတား နှင့်ဆက်စပ်သော စီးပွားရေး အဆောက်အအုံ များအားတည်ဆောက်၍ ငှားရမ်းခြင်း လုပ်ငန်းတည်နေရာ

- ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်း၊ မြေကွက်အမှတ် (၂၇) ရှိ မြေဧရိယာ (၃၇.၀၆)ဧက

စုစုပေါင်းရင်းနှီးမြှုပ်နှံမှု - ကျပ် ၅၁၀၂၆.၃၀ သန်း (US$ ၂၃.၁၀ သန်းအပါအဝင်)

လုပ်ငန်းသက်တမ်း - ကနဦးနှစ် (၅၀)နှင့် (၁၀)နှစ် (၂) ကြိမ်

အရင်းကြေကာလ - ၈ နှစ် ၇ လ

IRR - ၉.၄ %

အထက်ပါ လုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ | ၂.၀၄ (၁ နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၇ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၁၄၄၃.၇၂ | |
| ၄ | ဝင်ငွေခွန် | ၇၈၃၂.၂၀ | ၁၅၈၁၀.၀၈ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | | ၂၈၁၀.၁၅ |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | | ၆၀၀.၀၀ |
| ၇ | မြေငှားရမ်းခ | | ၆၇၉၁.၀၀ |
| ၈ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ၄၀၂.၄၈ |
| ၉ | CSR ( ၁ % ) | | ၁၄၂.၁၁ |
| | | | ပြည်တွင်းဝန်ထမ်း (၈၄) ဦး အလုပ်အကိုင် ရရှိမည်ဖြစ်ပါသည်။ |
| | စုစုပေါင်း | ၉၂၇၇.၉၆ | ၂၆၅၅၆.၉၉ |
| | Cost : Benefit | ၁ : ၃ | |

ကန့်သတ်

# Myanmar Edible Oil Industrial Public Corporation (MEICO) Limited မှ BOT စနစ် ဖြင့် စားသုံးဆီနှင့် ဆီထွက်သီးနှံကုန်ပစ္စည်းများ တင်/ချ ခေတ်မီဘက်စုံသုံး အပြည်ပြည်ဆိုင်ရာ ဆိပ်ခံတံတားနှင့် ဆက်စပ်သော စီးပွားရေး အဆောက်အအုံများကို တည်ဆောက်၍ ငှားရမ်းခြင်း လုပ်ငန်းများ လုပ်ကိုင်ခွင့်နှင့် စပ်လျဉ်းသည့် အဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Myanmar Edible Oil Industrial Public Corporation (MEICO) Limited<br>အများပိုင် Public company ဖြစ်ပါသည်။ |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးသိန်းဟန် |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - BOT စနစ် ဖြင့် စားသုံးဆီနှင့် ဆီထွက်သီးနှံကုန်ပစ္စည်းများ တင်/ချ ခေတ်မီဘက်စုံသုံး အပြည်ပြည်ဆိုင်ရာ ဆိပ်ခံတံတားနှင့် ဆက်စပ်သော စီးပွားရေး အဆောက်အအုံများကို တည်ဆောက်၍ ငှားရမ်းခြင်း<br>(ဆက်စပ်သော စီးပွားရေးဆိုင်ရာ အဆောက်အအုံများ တည်ဆောက်ခြင်း ဆိုသည်မှာ မြေဧရိယာ ၂၀.၀၆ ဧက ကျယ်ဝန်းသော ကျောထောက်နောက်ခံမြေပေါ် တွင် ပဲမျိုးစုံ၊ ပြောင်း၊ နှမ်း၊ ဆီထွက်သီးနှံနှင့် သွင်းကုန်ပစ္စည်းတို့အား သိုလှောင်မည့် စားသုံးဆီ သိုလှောင်ကန် Warehouse များနှင့် Silo များတည်ဆောက်ရန် ငှားရမ်းခြင်းဖြစ်ပါသည်။) |
| ၄။ | လုပ်ငန်းတည်နေရာ / မြေအကျယ်အဝန်း | - ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်ကျောက်တန်း နယ်မြေ၊ သီလဝါဆိပ်ကမ်း၊ မြေကွက်အမှတ် (၂၇)ရှိ မြေ ဧရိယာ ၃၇.၀၆ ဧက |
| ၅။ | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **ကျပ် ၅၁၀၂၆.၃၀ သန်း (US$ ၂၃.၁၀ သန်းအပါအဝင်)** |
| | - ငွေပမာဏ | ကျပ် ၁၅၅၅.၉၀ သန်း |
| | - စက်ပစ္စည်းများ နှင့် လျှပ်စစ်ပစ္စည်းများ | ကျပ် ၁၄၅၇၅.၄၀ သန်း (US$ ၁၁.၂၂ သန်းအပါအဝင်) |
| | - အဆောက်အဦ | ကျပ် ၃၄၈၉၅.၀၀ သန်း (US$ ၁၁.၈၈ သန်းအပါအဝင်) |
| ၆။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ကနဦး နှစ်(၅၀)နှင့် နောက်ထပ် သက်တမ်း (၁)ကြိမ်လျှင်<br>- (၁၀)နှစ် နှင့် သက်တမ်း (၂)ကြိမ် တိုးမြှင့်မည်။ |
| ၇။ | တည်ဆောက်ရေးကာလ | - ၃ နှစ် |
| ၈။ | ဝင်ငွေ (၆ နှစ်မြောက်) | - အမေရိကန်ဒေါ်လာ ၇.၉၇ သန်း |
| | အသုံးစရိတ် | - အမေရိကန်ဒေါ်လာ ၄.၉၈ သန်း |
| | အသားတင်အမြတ် | - အမေရိကန်ဒေါ်လာ ၂.၉၉ သန်း |

ကန့်သတ်

| | | |
|---|---|---|
| ၉။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် | |
| | ဝင်ငွေခွန် | - အမေရိကန်ဒေါ်လာ ၀.၁၀ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - အမေရိကန်ဒေါ်လာ ၀.၃၈ သန်း |
| ၁၀။ | ဝန်ထမ်းအင်အား | ပြည်တွင်း ၈၄ ဦး (အနိမ့်ဆုံး ဝန်ထမ်းလစာမှာ အမေရိကန်ဒေါ်လာ ၁၂၀ ဖြစ်ပြီး အမြင့်ဆုံး ဝန်ထမ်းလစာမှာ အမေရိကန်ဒေါ်လာ ၂၆၀၀ ဖြစ်ပါသည်။) |
| ၁၁။ | အရင်းကြေကာလ | - ၈ နှစ် နှင့် ၇ လ |
| ၁၂။ | အရင်းအနှီးပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၉.၄ % |
| ၁၃။ | ငွေကြေးအထောက်အထား | - ငွေကြေးအထောက်အထားအဖြစ် ကမ္ဘောဇဘဏ်တွင် ကုမ္ပဏီအမည်ဖြင့် ၁-၇-၂၀၁၅ နေ့ရက်တွင် လက်ကျန်ငွေကျပ် ၁,၂၁၀,၃၂၆,၀၃၉ ရှိကြောင်း တင်ပြထားပါသည်။ |
| ၁၄။ | လျှပ်စစ်ဓာတ်အား | - ၄၂ ကီလိုဝပ်နာရီ သန်းပေါင်း သုံးစွဲမည်ဖြစ်ပါသည်။ |
| ၁၅။ | အခြားတင်ပြချက် | - Myanmar Edible Oil Industrial Public Corporation (MEICO) Ltd Environmental and Social Impact Assessment Report ကို ရေးဆွဲ တင်ပြထားပါသည်။ |
| ၁၆။ | ပို့ဆောင်ရေးဝန်ကြီးဌာနမှ တင်ပြချက် | - ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင် - ကျောက်တန်း နယ်မြေ၊ သီလဝါ ဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ် (၂၇) အား နိုင်ငံတော်သမ္မတ၏ လမ်းညွှန်ချက်အရ စားသုံးဆီနှင့် ဆီထွက်သီးနှံမျိုးစုံ ကိုင်တွယ်နိုင်မည့် ခေတ်မီ အပြည်ပြည်ဆိုင်ရာ အဆောက်အအုံများ တည်ဆောက်ကာ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုရန် မြန်မာနိုင်ငံဆီကုန်သည်နှင့် ဆီလုပ်ငန်းရှင်များအသင်းမှ ဦးစီး၍ အများပိုင်ကုမ္ပဏီ တစ်ခုဖြစ်သော Myanmar Edible Oil Industrial Public Corporation (MEICO) Ltd ကို နေရာချထားပေးခဲ့ကြောင်း။<br>- သီလဝါဆိပ်ကမ်းဒေသရှိ မြေကွက်အမှတ် (၂၇)မှာ မျက်နှာစာ ၂၀၀ မီတာ × အကျယ် ၇၅၀ မီတာ အရွယ်ရှိပြီး စုစုပေါင်း ဧရိယာအားဖြင့် ၃၇.၀၆ ဧကရှိပြီး ၎င်းမြေဧရိယာအနက် ၁၇ ဧက ကို ဆိပ်ကမ်းလုပ်ငန်းနှင့် သက်ဆိုင်သည့် အထောက်အကူပြု အဆောက်အအုံများအား အကောင်အထည်ဖော်ဆောက်ရွက်ရန် ရည်ရွယ်ထားပြီး အဆိုပါဆိပ်ကမ်းမြေနေရာကို ကျောထောက်နောက်ခံပြု၍ မြစ်ကမ်းနဖူးတွင် မျက်နှာစာ အလျား ၁၉၀ မီတာ × အကျယ် ၃၀ မီတာ အရွယ်ရှိ စားသုံးဆီနှင့် ဆီထွက်သီးနှံမျိုးစုံ ကိုင်တွယ်နိုင်မည့် ခေတ်မီ အပြည်ပြည်ဆိုင်ရာ ဆိပ်ခံတံတားတစ်စင်းကို အကောင်အထည်ဖော် ဆောင်ရွက်ရန် ရည်ရွယ်ထားပါကြောင်း။<br>- MEICO အနေဖြင့် ခေတ်မီ အပြည်ပြည်ဆိုင်ရာ ဆိပ်ခံတံတား တစ်စင်းကို တည်ဆောက်ပြီး ကုန်သေတ္တာ ကိုင်တွယ်မှု လုပ်ငန်း |

| | | |
|---|---|---|
| | | များကိုပါ ဆောင်ရွက်ခွင့်ပြုရန် တင်ပြထားသော်လည်း ယခုလက်ရှိ အခြေအနေတွင် ၎င်းတို့ကုမ္ပဏီနှင့်သက်ဆိုင်သော စားသုံးဆီနှင့် ဆီထွက်သီးနှံမျိုးစုံ သယ်ယူပို့ဆောင်နိုင်သည့် ကုန်သေတ္တာများကိုသာ ကိုင်တွယ်ခွင့်ပြုနိုင်မည်ဖြစ်ပြီး အခြား ကုန်စည်များအတွက် ခွင့်ပြုပေးနိုင်မည် မဟုတ်ကြောင်း ။<br>- မြေ ၂၀.၀၆ ဧကပေါ်တွင် စီးပွားရေးလုပ်ငန်း ဆောင်တာများ ဖြစ်သော ဆီထွက်သီးနှံ ကုန်ကြမ်းများမှ စားသုံးဆီ ကုန်ချော ထုတ်လုပ်မှု လုပ်ငန်းများ၊ နိုင်ငံတကာ အဆင့်မီ စက်များ၊ Refinery Plant နှင့် Solvent Plant များ၊ ထုတ်ပိုးဖြန့်ချိရေး လုပ်ငန်းများ၊ ဆီသိုလှောင်ကန်များစသည့် ဆက်စပ် စီးပွားရေး လုပ်ငန်းများနှင့် အထောက်အကူပြု အဆောက်အအုံများ အကောင်အထည်ဖော် တည်ဆောက်ရန် ရည်ရွယ်ထားပါကြောင်း။<br>- စီမံကိန်းလုပ်ငန်းတစ်ခုလုံးကို (၃)နှစ်အတွင်း ပြီးစီးအောင် တည်ဆောက်သွားမည်ဖြစ်ပြီး ပထမအဆင့် စီမံကိန်း လုပ်ငန်း များကို ခွင့်ပြုချက်ရရှိပြီး (၁၈) လအတွင်း ပြီးစီးအောင် တည်ဆောက်သွားမည်ဖြစ်ကြောင်း။<br>- ထပ်ဆင့်ငှားရမ်းခြင်းမရှိပါက ကျပ် ၁၃၀,၁၁၈,၉၈၉ ထည့်သွင်း တွက်ချက်၍ သက်ဆိုင်ရာနှစ်အလိုက် သတ်မှတ်ရာခိုင်နှုန်းထား အရ MPA သို့ ပေးဆောင်ရမည်ဖြစ်ကြောင်း။<br>- MEICO သည် ကျောထောက်နောက်ခံမြေ ၂၀.၀၆ ဧက တွင် စီးပွားရေးဆိုင်ရာ လုပ်ငန်းဆောင်တာများကို အကောင် အထည်ဖော် ဆောင်ရွက်ရန် ကော်မရှင်သို့ ထပ်မံတင်ပြ၍ ခွင့်ပြုချက်ရယူကာ အခြားရင်းနှီးမြှုပ်နှံသူများသို့တစ်ဆင့် ငှားရမ်း ခွင့်ပြုရန် ဖြစ်ကြောင်း။<br>- MEICOသည် အငှားချထားသည့် မြေနေရာတွင် လယ်ယာ လုပ်ကိုင်လျက်ရှိသော လယ်သမားများအတွက် ကရုဏာ ထောက်ပံ့ကြေးငွေများကိုညှိနှိုင်းဆောင်ရွက်ပေးပြီးဖြစ်ကြောင်း။<br>- ကော်မရှင်သို့ အဆိုပြုချက်အား တင်ပြရန်အတွက် ပို့ဆောင် ရေးဝန်ကြီးဌာန၊ စီမံခန့်ခွဲရေး ကော်မတီ အစည်းအဝေး ၁၉/၂၀၁၅ (၂၄-၁၁-၂၀၁၅) က သဘောတူခွင့်ပြုထားပြီး ဖြစ်ကြောင်း။ |
| ၁၇။ | ပြည်ထောင်စုရွှေ့နေချုပ်ရုံး သဘောထား မှတ်ချက်နှင့် အညီ ချုပ်ဆိုထားသည့် BOT စာချုပ်(မူကြမ်း)နှင့် မြေငှားစာချုပ် (မူကြမ်း) ပါ အဓိကအချက်များ | - အဆိုပြု ကုမ္ပဏီနှင့် ပို့ဆောင်ရေးဝန်ကြီးဌာနတို့ ချုပ်ဆိုမည့် ရှေ့နေချုပ်ရုံး သဘောထား မှတ်ချက်နှင့် အညီ B.O.T ပဋိညာဉ်စာချုပ် (မူကြမ်း)နှင့် မြေငှားစာချုပ် (မူကြမ်း)ပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-<br>- စီးပွားရေးလုပ်ငန်းဆောင်တာများ ဆိုသည်မှာ ဖော်ထုတ် ထား သော မြေပေါ်၌ " နိုင်ငံတကာ အဆင့်မီ စားသုံးဆီစက်များ၊ Refinery Plant နှင့် Solvent Plant များ၊ ဆီထွက် သီးနှံ ကုန်ကြမ်းများမှ စားသုံးဆီ ကုန်ချော ထုတ်လုပ်မှုများ |

- ထုပ်ပိုးဖြန့်ချိရေးလုပ်ငန်းများ၊ စားသုံးဆီချော ထုတ်လုပ်ပြီး ဆက်စပ်ပစ္စည်းများဖြစ်သည့် အလှဆီ၊ ဆပ်ပြာဆီနှင့် မွေးမြူရေး အစားအစာ လုပ်ငန်းများ၊ စားသုံးဆီ သိုလှောင်ကုန်များ၊ ယာဉ်ယန္တရားများ အပါအဝင် အထွေထွေကုန်စည်များထားသိုနိုင်သော Warehouse စသည့် စီးပွားရေး လုပ်ငန်းများနှင့် သက်ဆိုင်သော အဆောက်အအုံ လုပ်ကိုင် ဆောင်ရွက်ခြင်းကို ဆိုလိုခြင်း ဖြစ်သည်။

**(BOT စာချုပ် အပိုဒ် ၁-၂)**

မြေအသုံးချမှုပရီမီယံကြေးအတွက် မြေ ၁ ဧကလျှင် ကျပ် ၁၅၀ သိန်း ဖြင့် စုစုပေါင်း မြေဧရိယာ ၃၇.၀၆ ဧကအတွက် ကျပ် ၅၅၅,၉၀၀,၀၀၀ ကို အောက်ပါအတိုင်း ပေးချေရပါမည်-

(က) ပထမအရစ်အဖြစ် မြေအသုံးချမှုပရီမီယံကြေး၏ ၅၀% ဖြစ်သော ကျပ် ၂၇၇,၉၅၀,၀၀၀ ကို မြေငှားစာချုပ် လက်မှတ် ရေးထိုးပြီး ရက်ပေါင်း ၃၀ အတွင်း ပေးချေရပါမည်။

(ခ) ဒုတိယအရစ်အဖြစ် မြေအသုံးချမှုပရီမီယံကြေး၏ ၅၀% ဖြစ်သော ကျပ် ၂၇၇,၉၅၀,၀၀၀ ကို မြေငှားစာချုပ် လက်မှတ် ရေးထိုးပြီး တစ်နှစ်အတွင်း ပေးချေရပါမည်။

**(မြေငှားစာချုပ် အပိုဒ် ၅-၁)**

- နှစ်စဉ်မြေငှားရမ်းခ နှုန်းထားများမှာ စာချုပ်၏ နောက်ဆက်တွဲ(ဂ)တွင်ဖော်ပြထားသည့်အတိုင်း စုစုပေါင်း ဝင်ငွေကို တွက်ချက်ပြီး စီမံကိန်း လုပ်ငန်းမှ ဝင်ငွေ ရရှိသည့်နေ့မှစ၍ မြေငှားရမ်းခကို အောက်ပါအတိုင်း ပေးချေ ရပါမည်-

(က) ပထမနှစ်မှ(၁၀)နှစ်မြောက်စုစုပေါင်းဝင်ငွေ၏ ၆ %

(ခ) (၁၁)နှစ်မှ(၂၀)နှစ်မြောက်စုစုပေါင်းဝင်ငွေ၏ ၁၂ %

- (ဂ) (၂၁)နှစ်မှ (၃၅)နှစ်မြောက်စုစုပေါင်းဝင်ငွေ၏ ၁၈ %

(ဃ) (၃၆)နှစ်မြောက်မှ အထက်စုစုပေါင်းဝင်ငွေ၏ ၂၀ %

**(မြေငှားစာချုပ် အပိုဒ် ၅-၂)**

- ငှားရမ်းသည့်ကာလ ကုန်ဆုံးသည့်အခါ ရင်းနှီးမြှုပ်နှံသူများသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူညီချက်ဖြင့် မြန်မာ့ဆိပ်ကမ်း အာဏာပိုင်နှင့် ငှားရမ်းသူ အသစ်တို့၏ အတည်ပြုချက်ဖြင့် ထပ်ဆင့်ငှားရမ်းခြင်းဖြင့် ဆက်လက်လုပ်ကိုင်နိုင်ပြီး ကော်မရှင်၏ သဘောတူညီချက်နှင့် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ အတည်ပြုချက်မရရှိပါက ကုမ္ပဏီ သည် အဆိုပါမြေအပိုင်းကို မူလအခြေအနေအတိုင်း ငှားရမ်းသက်တမ်း ကုန်ဆုံးသည့်နေ့မှ ၆ လအတွင်း ပြန်လည်အပ်နှံရမည်။ မြန်မာ့ဆိပ်ကမ်း အာဏာပိုင်သည် မြေငှားရမ်းသည့် ကာလကို တိုးမြှင့်ရန်ဆန္ဒရှိပါက ကုမ္ပဏီသို့ ၂ နှစ်ကြိုတင်ပြီး အသိပေး အကြောင်းကြားပါမည်။

| | | |
|---|---|---|
| | | (မြေငှားစာချုပ် အပိုဒ် ၇-၇)<br>- လုပ်ငန်း လုပ်ကိုင်ခွင့် ကာလသက်တမ်း မှာ ကနဦး ၅၀ နှစ် နှင့် ကော်မရှင်ခွင့်ပြုချက်ဖြင့် တစ်ကြိမ်လျှင် ၁၀ နှစ် ဖြင့် ၂ ကြိမ် တိုးမြှင့်နိုင်သည်။ လုပ်ငန်း ကနဦး သက်တမ်း စတင်မှုကို ဤ သဘောတူစာချုပ် အား စာချုပ်ဝင်နှစ်ဦး လက်မှတ်ရေးထိုးပြီး သည့်နေ့မှစ၍ ကနဦး ၅၀ နှစ်ဖြစ်သည်။<br>(BOT စာချုပ်အပိုဒ် ၁၂-၂၊ ၁၂-၃)<br>- မြန်မာ့ဆိပ်ကမ်း အာဏာပိုင်သည် ဖွံ့ဖြိုးအောင် ဖော်ထုတ်ထားသည့်မြေပေါ်တွင် ရင်းနှီးမြှုပ်နှံသူများမှ စီးပွားရေး လုပ်ငန်းဆောင်တာများ အကောင်အထည်ဖော် ဆောင်ရွက်နိုင်ရန် MEICO အနေဖြင့် ထပ်ဆင့်ငှားရမ်းသည့် စာချုပ်များ ချုပ်ဆို နိုင်ရန်အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ အတည်ပြုချက် ရရှိအောင် ကူညီပံ့ပိုးပေးပါမည်။<br>(BOT စာချုပ် အပိုဒ် ၆-၇) |
| ၁၈။ | ကော်မရှင်ရုံး၏ စိစစ်တင်ပြချက် | (က) ပို့ဆောင်ရေး ဝန်ကြီးဌာနမှ MEICO အား နိုင်ငံတကာ ဆိပ်ခံတံတားနှင့် ဆက်စပ် လုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ရန်အတွက် သီလဝါ ဆိပ်ကမ်းဒေသ၊ မြေကွက် အမှတ် ၂၇ တွင်နေရာချထား၍ သက်ဆိုင်ရာ အခကြေးငွေများ ပေးသွင်းစေလျက် ရင်းနှီး မြှုပ်နှံမှု အဆိုပြုချက်တင်ပြနိုင်ရေး လုပ်ထုံးလုပ်နည်း နှင့်အညီ ဆက်လက်ဆောင်ရွက် သွားနိုင်ရန် (၂၄-၂-၂၀၁၄) ရက်နေ့ ရက်စွဲပါစာဖြင့် ကုမ္ပဏီသို့ အကြောင်းကြားခဲ့ကြောင်း စိစစ် တွေ့ရှိရပါသည်။<br>(ခ) MEICO မှ ဆိပ်ခံတံတား အမျိုးအစားအနေဖြင့် သံကူကွန်ကရစ် ဆိပ်ခံတံတား၊ အရွယ်အစားအနေဖြင့် မျက်နှာစာအလျား ၂၀၀ မီတာ၊ အကျယ် ၇၅၀ မီတာ အရွယ် ရှိပြီး စုစုပေါင်းဧရိယာအားဖြင့် ၃၇.၀၆ ဧကရှိပြီး၊ ၎င်းဧရိယာအနက် ၁၇ ဧကကို ဆိပ်ကမ်း လုပ်ငန်းနှင့် သက်ဆိုင်သည့် အထောက် အကူပြု အဆောက် အအုံများအား အကောင်အထည်ဖော် ဆောင်ရွက်ရန် ရည်ရွယ်ထားပြီး အဆိုပါ ဆိပ်ကမ်း မြေနေရာကို ကျောထောက် နောက်ခံပြု၍ မြစ်ကမ်း နဖူးတွင် မျက်နှာစာ အလျား ၁၉၀ မီတာ၊ အကျယ် ၃၀ မီတာအရွယ်ရှိ စားသုံးဆီနှင့် ဆီထွက်သီးနှံ မျိုးစုံ ကိုင်တွယ်နိုင်မည့် ခေတ်မီ အပြည်ပြည်ဆိုင်ရာ သံကူ ကွန်ကရစ် ဆိပ်ခံတံတားတစ်စင်းကို ဆိပ်ကမ်းလွှင်ပြင် အရွယ်အစား အလျား ၂၀၀ မီတာ၊ အကျယ် ၂၀၀ မီတာ |

| | | |
|---|---|---|
| | | တွင် အကောင် အထည်ဖော် ဆောင်ရွက်မည်ဖြစ်ကြောင်း ပို့ဆောင် ရေးဝန်ကြီးဌာနမှ တင်ပြထားသည်ကို စိစစ်တွေ့ရှိရ ပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရကာ-၄/မ-၁၅၇၇/၂၀၁၆( ၄၂၂ )
ရက်စွဲ ၊၂၀၁၆ ခုနှစ် မတ် လ ၁၆ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **Myanmar Edible Oil Industrial Public Corporation (MEICO) Limited သည် BOT စနစ်ဖြင့် စားသုံးဆီနှင့် ဆီထွက်သီးနှံကုန်ပစ္စည်းများ တင်/ချ ခေတ်မီဘက်စုံသုံး အပြည်ပြည်ဆိုင်ရာဆိပ်ခံတံတား နှင့်ဆက်စပ်သော စီးပွားရေးအဆောက်အအုံများအား တည်ဆောက်၍ ငှားရမ်းခြင်းလုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

၁။ Myanmar Edible Oil Industrial Public Corporation (MEICO)Limited မှ ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်း၊ မြေကွက်အမှတ် (၂၇) ရှိ မြေဧရိယာ(၃၇.၀၆)ဧကတွင် BOT စနစ်ဖြင့် စားသုံးဆီနှင့် ဆီထွက်သီးနှံကုန်ပစ္စည်းများ တင်/ချ ခေတ်မီဘက်စုံသုံး အပြည်ပြည်ဆိုင်ရာဆိပ်ခံတံတား နှင့် ဆက်စပ်သော စီးပွားရေးအဆောက်အအုံများအားတည်ဆောက်၍ ငှားရမ်းခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးသိန်းဟန်မှ ပို့ဆောင်ရေး ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက်တင်ပြလာခြင်းကို ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၂၉ ရက်နေ့တွင် ကျင်းပပြုလုပ်သော အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၉/၂၀၁၆)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ ဆက်စပ်သော စီးပွားရေးဆိုင်ရာ အဆောက်အအုံများ တည်ဆောက်ခြင်း ဆိုသည်မှာ မြေဧရိယာ ၂၀.၀၆ ဧက ကျယ်ဝန်းသော ကျောထောက်နောက်ခံမြေပေါ် တွင် ပဲမျိုးစုံ၊ ပြောင်း၊ နှမ်း၊ ဆီထွက်သီးနှံနှင့် သွင်းကုန်ပစ္စည်းတို့အား သိုလှောင်မည့် စားသုံးဆီ သိုလှောင်ကန် Warehouse များနှင့် Silo များတည်ဆောက်၍ ငှားရမ်းခြင်းဖြစ်ပါသည်။

၃။ ပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင် နှင့် Myanmar Edible Oil Industrial Public Corporation Limited တို့ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့် အညီ BOT စနစ်ဖြင့် ချုပ်ဆိုမည့် ပဋိညာဉ်စာချုပ် (မူကြမ်း)နှင့် မြေငှားရမ်းခြင်း စာချုပ်(မူကြမ်း)ပါ အဓိက အချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(၁) မြေအသုံးချမှုပရီမီယံကြေးအတွက် မြေ ၁ ဧကလျှင် ကျပ် ၁၅ သန်း ဖြင့် စုစုပေါင်း မြေဧရိယာ ၃၇.၀၆ ဧကအတွက် ကျပ် ၅၅၅,၉၀၀,၀၀၀ ကို အောက်ပါအတိုင်း ပေးချေရပါမည်-

(က) ပထမအရစ်အဖြစ် မြေအသုံးချမှု ပရီမီယံကြေး၏ ၅၀ % ဖြစ်သော ကျပ် ၂၇၇,၉၅၀,၀၀၀ ကို မြေငှားစာချုပ် လက်မှတ်ရေးထိုးပြီး ရက်ပေါင်း ၃၀ အတွင်း ပေးချေရပါမည်။

(ခ) ဒုတိယအရစ်အဖြစ် မြေအသုံးချမှု ပရီမီယံကြေး၏ ၅၀ % ဖြစ်သော ကျပ် ၂၇၇,၉၅၀,၀၀၀ ကို မြေငှားစာချုပ် လက်မှတ် ရေးထိုးပြီး တစ်နှစ်အတွင်း ပေးချေရပါမည်။ **(မြေငှားစာချုပ် အပိုဒ် ၅-၁)**

(၂) နှစ်စဉ်မြေငှားရမ်းခနှုန်းထားများမှာ စာချုပ်၏ နောက်ဆက်တွဲ(ဂ)တွင် ဖော်ပြထားသည့်အတိုင်း စုစုပေါင်း ဝင်ငွေကို တွက်ချက်ပြီး စီမံကိန်း လုပ်ငန်းမှ ဝင်ငွေရရှိသည့် နေ့မှစ၍ မြေငှားရမ်းခကို အောက်ပါအတိုင်း ပေးချေရပါမည်-

(က) ပထမနှစ်မှ(၁၀)နှစ်မြောက် စုစုပေါင်းဝင်ငွေ၏ ၆ %

(ခ) (၁၁)နှစ်မှ(၂၀)နှစ်မြောက်စုစုပေါင်းဝင်ငွေ၏ ၁၂ %

(ဂ) (၂၁)နှစ်မှ (၃၅)နှစ်မြောက်စုစုပေါင်းဝင်ငွေ၏ ၁၈ %

(ဃ) (၃၆)နှစ်မြောက်မှ အထက်စုစုပေါင်းဝင်ငွေ၏ ၂၀ %

**(မြေငှားစာချုပ် အပိုဒ် ၅-၂)**

(၃) ငှားရမ်းသည့်ကာလ ကုန်ဆုံးသည့်အခါ ရင်းနှီးမြှုပ်နှံသူများသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူညီချက်ဖြင့် မြန်မာ့ဆိပ်ကမ်း အာဏာပိုင်နှင့် ငှားရမ်းသူအသစ်တို့၏ အတည်ပြုချက်ဖြင့် ထပ်ဆင့် ငှားရမ်းခြင်းဖြင့် ဆက်လက် လုပ်ကိုင်နိုင်ပြီး ကော်မရှင်၏ သဘောတူညီချက်နှင့် မြန်မာ့ဆိပ်ကမ်း အာဏာပိုင်၏ အတည်ပြုချက်မရရှိပါက ကုမ္ပဏီသည် အဆိုပါမြေအပိုင်းကို မူလအခြေအနေအတိုင်း ငှားရမ်းသက်တမ်းကုန်ဆုံးသည့်နေ့မှ ၆ လအတွင်း ပြန်လည် အပ်နှံရမည်။ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သည် မြေငှားရမ်းသည့်ကာလကိုတိုးမြှင့်ရန်ဆန္ဒရှိပါက ကုမ္ပဏီသို့ ၂ နှစ် ကြိုတင်ပြီး အသိပေး အကြောင်းကြားပါမည်။
**(မြေငှားစာချုပ် အပိုဒ် ၇-၇)**

(၄) MEICO သည် ၃ နှစ်သက်တမ်းရှိ လုပ်ငန်းဆောင်ရွက်မှု ဘဏ်အာမခံကို အစိုးရအသိအမှတ်ပြု ဘဏ်တစ်ခုခုတွင် ထားရှိရမည်ဖြစ်ပြီး ဘဏ်အာမခံ တန်ဖိုးငွေအဖြစ် မြန်မာကျပ်ငွေ ရင်းနှီးမြှုပ်နှံငွေ ပမာဏ၏ ၁ %ဖြစ်သော ငွေကျပ် ၂၄၄,၀၄၉,၀၀၀ နှင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုငွေ ပမာဏ၏ ၁ % ဖြစ်သောအမေရိကန်ဒေါ်လာ ၃၀၁.၃၅၀ ကို မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ သတ်မှတ်ပုံစံအတိုင်း စာချုပ်ချုပ်ဆိုပြီး ၄၅ ရက်အတွင်း ပေးသွင်းရပါမည်။ ထိုလုပ်ငန်း ဆောင်ရွက်မှု ဘဏ်အာမခံကို ဆိပ်ခံတံတားနှင့် ဆိပ်ခံ အဆောက်အအုံများ တည်ဆောက်ပြီး ဆုံးသည့်အချိန် (သို့မဟုတ်) ဤစာချုပ်ချုပ်ဆိုသည့်နေ့မှ ၃ နှစ်အတွင်းသက်တမ်းကုန်ဆုံးသည့်နေ့ထိုနှစ်ရပ်အနက်စောရာနေ့တွင် ပြန်လည်ပေးရပါမည်။သတ်မှတ်ထားသည့်အတိုင်း တည်ဆောက်ရေး ကာလ ၃ နှစ်အတွင်း လုပ်ငန်းများ ပြီးစီး

အောင် ဆောင်ရွက်နိုင်ခြင်းမရှိပါက လုပ်ငန်းဆောင်ရွက်မှု ဘဏ်အာမခံကို သိမ်းယူနိုင်မည့်အပြင် စာချုပ်ရပ်စဲရေးကို ဆောင်ရွက်နိုင်သည်။

**(မြေငှား စာချုပ် အပိုဒ် ၉)**

(၅) လုပ်ငန်း လုပ်ကိုင်ခွင့် ကာလသက်တမ်း မှာ ကနဦး ၅၀ နှစ် နှင့် ကော်မရှင်ခွင့်ပြုချက်ဖြင့် တစ်ကြိမ် လျှင် ၁၀ နှစ် ဖြင့် ၂ ကြိမ် တိုးမြှင့်နိုင်သည်။ လုပ်ငန်း ကနဦးသက်တမ်းစတင်မှုကို ဤသဘောတူစာချုပ်အား စာချုပ်ဝင်နှစ်ဦး လက်မှတ်ရေးထိုးပြီးသည့်နေ့မှစ၍ ကနဦး ၅၀ နှစ်ဖြစ်သည်။

**(BOT စာချုပ်အပိုဒ် ၁၂-၂၊ ၁၂-၃)**

(၆) မြန်မာ့ဆိပ်ကမ်း အာဏာပိုင်သည် ဖွံ့ဖြိုးအောင် ဖော်ထုတ် ထားသည့်မြေပေါ်တွင် ရင်းနှီးမြှုပ်နှံသူများမှ စီးပွားရေး လုပ်ငန်းဆောင်တာများ အကောင်အထည်ဖော်ဆောင်ရွက်နိုင်ရန် MEICO အနေဖြင့် ထပ်ဆင့်ငှားရမ်းသည့် စာချုပ်များ ချုပ်ဆိုနိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ အတည်ပြုချက် ရရှိအောင်ကူညီပံ့ပိုးပေးပါမည်။ **(BOT စာချုပ် အပိုဒ် ၆-၇)**

၄။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု သက်တမ်းကာလမှာ ကနဦး(၅၀)နှစ်နှင့် နောက်ထပ် ၁၀ ၂ ကြိမ် တိုးမြှင့်မည်ဖြစ်ပြီး တည်ဆောက်ရေး ကာလမှာ ၃ နှစ် ဖြစ်ပါသည်။

၅။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ ၃၀.၁၄ သန်း အပါအဝင် စုစုပေါင်း ကျပ် ၆၀၅၆၆.၈၉ သန်းဖြစ်ပါသည်။ ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | | |
|---|---|---|---|
| (က) | ငွေပမာဏ | ကျပ် | ၁၅၅၅.၉၀ သန်း |
| (ခ) | စက်ပစ္စည်းများနှင့်လျှပ်စစ် ပစ္စည်းများ | ကျပ် | ၁၄၅၇၅.၄၀ သန်း (US$ ၁၁.၂၁၆ သန်း) |
| (ဂ) | အဆောက်အဦ | ကျပ် | ၃၄၈၉၅.၀၀ သန်း(US$ ၁.၈၈၄သန်းအပါအဝင်) |
| | **စုစုပေါင်း** | **ကျပ်** | **၅၁၀၂၆.၃၀ သန်း (US$ ၂၃.၁၀ သန်း အပါ အဝင်)** |

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းမှ ဝန်ထမ်း ၈၄ ဦးခန့်ထားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ ပြည်တွင်း ဝန်ထမ်း(၁)ဦး၏ အနိမ့်ဆုံး လစာမှာ US$ ၁၂၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ US$ ၂၆၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်း၏ ပုံမှန်နှစ်(၆)နှစ်မြောက်တွင် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်နိုင်မှု အခြေအနေမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

အမေရိကန် ၁ ဒေါ်လာ = ၁၂၀၀ ကျပ်

| စဉ် | အကြောင်းအရာ | ရေတွက်ပုံ | ဝန်ဆောင်မှုပမာဏ | တစ်နှစ်ငှားရမ်းခနှုန်း (US$) | စုစုပေါင်းဝင်ငွေ (US$) |
|---|---|---|---|---|---|
| (က) | Cargo | Ton | ၇၂၀၀၀၀ | ၄.၇၃ | ၃၄၀၂၀၀၀ |
| (ခ) | Warehouse Rental | Acre | ၂၀.၀၆ | ၅၆၇၆ | ၁၁၃၈၅၄ |
| (ဂ) | Wharfage | Ton | ၆၁၂၀၀၀ | ၀.၀၂ | ၁၃၁၁၄ |
| (ဃ) | Mooring/Un-mooring | Vessel | ၇၂.၀၀ | ၁၄၇ | ၁၀၅၈၄ |
| (င) | Edible oil Tanks | Ton | ၅၇၆၀၀၀၀ | ၀.၂၅ | ၁၄၄၀၀၀၀ |
| (စ) | Berth Hire | Teu | ၃၆၀၀၀ | ၈၀.၀၀ | ၁၀၈၀၄၀ |
| (ဆ) | Container Service | - | - | - | ၂၈၈၀၀၀၀ |
| | စုစုပေါင်း | | | | ၇၉၆၇၅၉၂ |

၈။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည် -

US $ (သန်း)

| | | |
|---|---|---|
| (က) | ဝင်ငွေ | ၇.၉၇ |
| (ခ) | အသုံးစရိတ် | ၄.၉၈ |
| (ဂ) | အသားတင်အမြတ် | ၂.၉၉ |

၉။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ကုန်သွယ်လုပ်ငန်းခွန် အမေရိကန်ဒေါ်လာ ၀.၃၈ သန်း နှင့် ညီမျှသော မြန်မာကျပ်ငွေ နှင့် ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၁.၀၀ သန်း နှင့်ညီမျှသော မြန်မာကျပ်ငွေ ရရှိမည် ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၈)နှစ်(၇)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၉.၄ % ဖြစ်ပါသည်။

၁၀။ ယင်းအဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** (နောက်ဆက်တွဲ-က)

(၁) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိ မြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်း မရှိပါကြောင်း။

(၂) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၂၀၀)ဦး နှင့် တည်ဆောက် ပြီးကာလတွင် (၁၀၀)ဦး၊ စုစုပေါင်း (၃၀၀)ဦး အလုပ်အကိုင် ရရှိမည်ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသ စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်ပါကြောင်း။

(၃) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သန်လျင်ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်း၊ မြေကွက်အမှတ်(၂၇)၊ မြေဧရိယာ (၃၇.၀၆)ဧကအားတစ်နှစ်လျှင် ငွေကျပ် ၅၅၅.၉၀ သန်း၊ (တစ်စတုရန်းပေလျှင် ၃၄၄ ကျပ် ၊ တစ်စတုရန်း မီတာလျှင် ၃၇၀၆ ကျပ် နှုန်းဖြင့် ကနဦး (၅၀)နှစ်နှင့် ၁၀ နှစ်သက်တမ်းတိုး (၂)ကြိမ်သက်တမ်းတိုး ငှားရမ်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါကြောင်း။

(၄) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါကြောင်း။

(၅) ၂၀၁၆ ခုနှစ် မတ်လ ၁၁ ရက်နေ့တွင်ကျင်းပသော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့အစည်းအဝေး အမှတ်စဉ် (၁၁/၂၀၁၆)ကြိမ်မြောက် အစည်းအဝေး ဆုံးဖြတ်ချက်အပိုဒ် (၁၂၂) အရ အဆိုပါရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း။

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန (နောက်ဆက်တွဲ-ခ)**

(၁) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန် နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးအကျိုးပြု လုပ်ငန်းများအတွက် အသားတင်အမြတ်ငွေ၏ (၁%)အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်။

(၂) အဆိုပြုလုပ်ငန်းများ ဆောင်ရွက်မှုကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေရေးတို့အတွက် အဆိုပြုလွှာတွင် တင်ပြထားပြီးဖြစ်သည့် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment - EIA) အစီရင်ခံစာကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းနှင့် အညီ ပြုစုပြီး အစီရင်ခံစာကို ဝန်ကြီးဌာနသို့ တင်ပြပြီး အတည်ပြုချက် ရယူဆောင်ရွက်ရန်။

(၃) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှုများ မရှိစေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan -

EMP)ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(၄) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များ၊ ပို့ဆောင်ရေး ဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ ချမှတ်ထားသော ဥပဒေ၊ နည်းဥပဒေ၊ ညွှန်ကြားချက်များ စည်းကမ်းချက်များနှင့် အညီ လိုက်နာကျင့်သုံး အကောင်အထည် ဖော်ဆောင်ရွက်ရန်။

(ကုမ္ပဏီမှ ရေးဆွဲထားသော အဆိုပြုလုပ်ငန်း၏ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုဆန်းစစ်ချက် (Environmental and Social Impact Assessment – ESIA) အစီရင်ခံစာအား ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနသို့ ၃-၃-၂၀၁၆ ရက်စွဲပါစာဖြင့် ပေးပို့ထားပါသည်။

(ခ) **ပို့ဆောင်ရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ဂ)**

(၁) ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင် - ကျောက်တန်း နယ်မြေ၊ သီလဝါ ဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ် (၂၇) အား နိုင်ငံတော်သမ္မတ၏ လမ်းညွှန်ချက်အရ စားသုံးဆီနှင့် ဆီထွက် သီးနှံမျိုးစုံ ကိုင်တွယ်နိုင်မည့် ခေတ်မီ အပြည်ပြည်ဆိုင်ရာ အဆောက်အအုံများ တည်ဆောက်ကာ လုပ်ငန်းလုပ်ကိုင် ခွင့်ပြုရန် မြန်မာနိုင်ငံဆီကုန်သည်နှင့် ဆီလုပ်ငန်းရှင်များ အသင်းမှ ဦးစီး၍ အများပိုင်ကုမ္ပဏီ တစ်ခုဖြစ်သော Myanmar Edible Oil Industrial Public Corporation (MEICO) Ltd ကို နေရာချထား ပေးခဲ့ကြောင်း။

(၂) သီလဝါ ဆိပ်ကမ်းဒေသရှိ မြေကွက်အမှတ် (၂၇)မှာ မျက်နှာစာ ၂၀၀ မီတာ × အကျယ် ၇၅၀ မီတာ အရွယ်ရှိပြီး စုစုပေါင်း ဧရိယာအားဖြင့် ၃၇.၀၆ ဧကရှိပြီး ၎င်းမြေဧရိယာအနက် ၁၇ ဧက ကို ဆိပ်ကမ်းလုပ်ငန်းနှင့် သက်ဆိုင်သည့် အထောက်အကူပြု အဆောက်အအုံများအား အကောင်အထည်ဖော် ဆောင်ရွက်ရန် ရည်ရွယ်ထားပြီး အဆိုပါဆိပ်ကမ်းမြေနေရာကို ကျောထောက်နောက်ခံပြု၍ မြစ်ကမ်းနဖူးတွင် မျက်နှာစာ အလျား ၁၉၀ မီတာ × အကျယ် ၃၀ မီတာ အရွယ်ရှိ စားသုံးဆီနှင့် ဆီထွက်သီးနှံမျိုးစုံ ကိုင်တွယ်နိုင်မည့် ခေတ်မီ အပြည်ပြည်ဆိုင်ရာ ဆိပ်ခံတံတားတစ်စင်းကို အကောင်အထည်ဖော် ဆောင်ရွက်ရန် ရည်ရွယ်ထားပါကြောင်း။

(၃) MEICO အနေဖြင့် ခေတ်မီ အပြည်ပြည်ဆိုင်ရာ ဆိပ်ခံတား တစ်စင်းကို တည်ဆောက်ပြီး ကုန်သေတ္တာ ကိုင်တွယ်မှု လုပ်ငန်းများကိုပါ ဆောင်ရွက်ခွင့်ပြုရန် တင်ပြထားသော်လည်း ယခုလက်ရှိ အခြေအနေတွင် ၎င်းတို့ကုမ္ပဏီနှင့် သက်ဆိုင်သော စားသုံးဆီ နှင့် ဆီထွက်သီးနှံမျိုးစုံ သယ်ယူပို့ဆောင်နိုင်သည့် ကုန်

သေတ္တာများကိုသာ ကိုင်တွယ်ခွင့်ပြုနိုင်မည်ဖြစ်ပြီး အခြား ကုန်စည်များ အတွက် ခွင့်ပြုပေးနိုင်မည် မဟုတ်ကြောင်း ။

(၄) စီမံကိန်း လုပ်ငန်းတစ်ခုလုံးကို (၃)နှစ်အတွင်း ပြီးစီးအောင် တည်ဆောက်သွားမည်ဖြစ်ပြီး ပထမအဆင့် စီမံကိန်း လုပ်ငန်းများကို ခွင့်ပြုချက်ရရှိပြီး (၁၈) လ အတွင်း ပြီးစီးအောင် တည်ဆောက်သွားမည်ဖြစ်ကြောင်း။

(၅) MEICO အနေဖြင့် သီလဝါဆိပ်ကမ်းဒေသရှိ မြေဧရိယာ ၃၇.၀၆ ဧက ငှားရမ်းခြင်းအတွက် မြေအသုံးချမှု ပရီမီယံ ကြေး အဖြစ် မြေတစ်ဧကလျှင် ကျပ် ၁၅၀ သိန်း နှုန်းဖြင့် စုစုပေါင်း ကျသင့်ငွေ ကျပ် ၅၅၅,၉၀၀,၀၀၀ ကို ၂ ရစ်ခွဲ၍ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ ပေးသွင်းရမည် ဖြစ်ပါကြောင်း။

(၆) စုစုပေါင်းဝင်ငွေတွက်ချက်ရာတွင် ပါဝင်သည့် မြေငှားရမ်းခ ဝင်ငွေ၌ စီးပွားရေး လုပ်ငန်းဆောင်တာများအတွက် လျာထားသည့် မြေ ၂၀.၀၆ဧက အတွက်တစ်နှစ် မြေ ၁ ဧကကို ကျပ် ၆,၄၈၆,၄၉၀ နှုန်းဖြင့် ကျပ် ၁၃၀,၁၁၈,၉၈၉ (သို့) ထပ်ဆင့် ငှားရမ်းခြင်းမှ ရရှိသည့် ဝင်ငွေအပေါ် သက်ဆိုင်ရာ နှစ်အလိုက် သတ်မှတ်ရာခိုင်နှုန်းအရ ကျသင့်သည့်ငွေ နှစ်ရပ်အနက်များရာကို ပေးဆောင်ရမည် ဖြစ်ကြောင်း။

(၇) ထပ်ဆင့်ငှားရမ်းခြင်းမရှိပါက ကျပ် ၁၃၀,၁၁၈,၉၈၉ ထည့်သွင်း တွက်ချက်၍ သက်ဆိုင်ရာနှစ်အလိုက် သတ်မှတ်ရာခိုင်နှုန်းထား အရ MPA သို့ ပေးဆောင်ရမည်ဖြစ်ကြောင်း။

(၈) MEICO သည် ကျောထောက်နောက်ခံမြေ ၂၀.၀၆ ဧက တွင် စီးပွားရေးဆိုင်ရာ လုပ်ငန်းဆောင်တာများကို အကောင် အထည်ဖော် ဆောင်ရွက်ရန် ကော်မရှင်သို့ ထပ်မံတင်ပြ၍ ခွင့်ပြုချက်ရယူကာ အခြားရင်းနှီးမြှုပ်နှံသူများသို့တစ်ဆင့် ငှားရမ်းခွင့်ပြုရန် ဖြစ်ကြောင်း။

(၉) MEICO သည် အငှားချထားသည့် မြေနေရာတွင် လယ်ယာ လုပ်ကိုင်လျက်ရှိသော လယ်သမားများအတွက် ကရုဏာ ထောက်ပံ့ကြေးငွေများကို ညှိနှိုင်းဆောင်ရွက်ပေးပြီး ဖြစ်ကြောင်း။

(၁၀) ကော်မရှင်သို့ အဆိုပြုချက်အား တင်ပြရန်အတွက် ပို့ဆောင်ရေး ဝန်ကြီးဌာန၊ စီမံခန့်ခွဲရေး ကော်မတီအစည်းအဝေး ၁၉/၂၀၁၅(၂၄-၁၁-၂၀၁၅) က သဘောတူ ခွင့်ပြုထားပြီး ဖြစ်ကြောင်း။

(ဂ) **မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း** **(နောက်ဆက်တွဲ-ဃ)**

(၁) မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၊ MIC Projects Assessment Committee အနေဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသတွင် BOT စနစ်ဖြင့် အပြည်ပြည်ဆိုင်ရာ စားသုံးဆီတင်/ချ ဆိပ်ခံတံတားနှင့် ဆက်စပ်အဆောက်အဦများ တည်ဆောက်မှုတွင် သတ်မှတ်

ထားသော စံချိန်စံညွှန်းများနှင့် အညီ တည်ဆောက်ရန်နှင့် စံချိန်စံညွှန်းမီ တည်ဆောက်ရေး ပစ္စည်းများ အသုံးပြု၍ တည်ဆောက်ပါက ကန့်ကွက်ရန် မရှိပါကြောင်း။

(၂) အဆောက်အဦပိုင်းတွင် Phase 1 အတွက် ပြည်ပမှတင်သွင်းမည့် အောက်ပါ ဆောက်လုပ်ရေး ပစ္စည်းများနှင့် အရေအတွက်ကို ထောက်ခံပါကြောင်း-

| စဉ် | ပစ္စည်းအမျိုးအစား | MIC စာအုပ်ပါ အရေအတွက် | BQ တွင်ပါဝင်သော အရေအတွက် | ထောက်ခံ တင်ပြသော အရေအတွက် |
|---|---|---|---|---|
| (က) | Cement | ၃၃၅၇၆ MT | ၃၃၅၇၆ MT | ၂၃၉၁၃ MT |
| (ခ) | Rebar | ၅၆၁၉ MT | ၅၆၁၉ MT | ၄၄၀၈ MT |
| (ဂ) | 1000 mm PSC Pile | ၅၀၄၀ m | ၅၀၄၀ m | ၄၉၄၄ m |
| (ဃ) | 900 mm PSC Pile | ၃၆၀၀ m | ၃၆၀၀ m | ၃၅၄၉ m |
| (င) | 700 mm PSC Pile | ၃၄၇၄ m | ၃၄၇၄ m | ၃၄၇၄ m |
| (စ) | 600 mm PSC Pile | ၄၁၃၄ m | ၄၁၃၄ m | ၃၆၇၁ m |

MT= မက်ထရစ်တန်, m = မီတာ

(၃) ယခုတင်ပြသော စီမံကိန်းစိစစ်ရာတွင် တင်ပြသော ဒီဇိုင်းများသည် အမှန်တကယ် အသေးစိတ် တည်ဆောက်မည့် ပုံစံ၊ ဒီဇိုင်းများနှင့် ကွဲလွဲမှုရှိမည် ဆိုပါက ယခုတွက်ချက်ထားသော ပစ္စည်းအရေတွက်များမှာ အမှန်တကယ် သုံးစွဲမည့် အရေအတွက်နှင့် ကွာခြားနိုင်ပါသဖြင့် လိုအပ်ပါက Detail Estimate ရရှိသည့်အခါတွင် ပြန်လည်စိစစ်မှုများ ဆောင်ရွက်ရန် လိုအပ်ပါ ကြောင်း (Subject to Check)

(၄) သက်ဆိုင်ရာ မီးသတ်ဦးစီးဌာနမှ ချမှတ်ထားသော လမ်းညွှန်ချက်များအတိုင်း လိုက်နာမည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း။

**(ကုမ္ပဏီမှ မြန်မာနိုင်ငံ အင်ဂျင်နီယာ အသင်း၏ ထောက်ခံချက်နှင့်အညီ ပြည်ပမှ တင်သွင်းမည့် ဆောက်လုပ်ရေးပစ္စည်းများကို ၇-၃-၂၀၁၆ ရက်နေ့တွင် ပြင်ဆင် တင်ပြလာပါသည်။)**

၁၀။ ငွေကြေးအထောက်အထားအဖြစ် ကမ္ဘောဇဘဏ်တွင် ကုမ္ပဏီ အမည်ဖြင့် ၁-၇-၂၀၁၅ နေ့ရက်တွင် လက်ကျန်ငွေကျပ် ၁,၂၁၀,၃၂၆,၀၃၉ ရှိကြောင်း တင်ပြထားသည့်အတွက် သုံးစွဲမည့် ကျပ်ငွေ ၂၃၃၀၆.၃၀ သန်း အတွက် ၅.၁၉ % ရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

၁၁။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှပိုင်ဆိုင် မှုမရှိပါကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ပါကြောင်း၊ သက်ဆိုင်ရာဌာန/ အဖွဲ့အစည်း အသီးသီးမှ

ညွှန်ကြားချက်များကို သိရှိလိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။ မီးဘေးကြိုတင်ကာကွယ်တားဆီးရေး စီမံချက်ကို တင်ပြထားပါသည်။

၁၂။ ဝန်ထမ်းများသက်သာချောင်ချိရေးအနေဖြင့် ဝန်ထမ်းများ အသွား/အပြန် ဖယ်ရီယာဥ် ကြို/ပို့ အခမဲ့စနစ်ဖြင့် ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ ဝန်ထမ်းများအရေးပေါ် ကျန်းမာရေးအတွက် တက်ကျွမ်းသော သူနာပြုဆရာမ တစ်ဦးခန့်ထားပြီး လိုအပ်သော ဆေးဝါးအပြည့်အစုံ ထားရှိမည်ဖြစ်ကြောင်း၊ လုပ်ငန်းခွင်မတော်တဆထိခိုက်ဒဏ်ရာရရှိသော ဝန်ထမ်းများကိုလည်း ဆေးရုံ/ဆေးခန်းများသို့သွားရောက်ကုသပေးမည်ဖြစ်ကြောင်း၊ သန့်ရှင်းသော ထမင်း၊ ဟင်း မုန့်မျိုးစုံတို့အား လုပ်ငန်းခွင်ရှေ့တွင် ရောင်းချခွင့်ပြုထားပါကြောင်း၊ အချိန်ပိုဆင်းရသောနေ့များတွင် အချိန်ပိုကြေး နှင့် မုန့်ဖိုး ဝန်ထမ်းတစ်ဦးလျှင် ၅၀၀ ကျပ် ထောက်ပံ့သွားမည်ဖြစ်ကြောင်း၊ ဝန်ထမ်းများ၏ လစာ များကို လုပ်သက်/စည်းကမ်း အပေါ်မူတည်ကာ တိုးမြှင့်ခံစားစေရန် ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ သန့်ရှင်းသော သောက်သုံးရေများ စီစဥ်ဆောင်ရွက်သွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၃။ ကုမ္ပဏီမှ CSR (Corporate Social Responsibility) အတွက် နှစ်စဥ်အသားတင်အမြတ်၏ ၁ % ကို သုံးစွဲရန် လျာထားပြီး ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ အဆိုပြုလုပ်ငန်းအတွက် လျှပ်စစ်ဓါတ်အား သုံးစွဲမှုမှာ ၄၂ ကီလိုဝပ်နာရီသန်းပေါင်း သုံးစွဲမည်ဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၅။ (က) ပို့ဆောင်ရေး ဝန်ကြီးဌာနမှ MEICO အား နိုင်ငံတကာ ဆိပ်ခံတံတားနှင့် ဆက်စပ်လုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ရန်အတွက် သီလဝါ ဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ် ၂၇ တွင်နေရာချထား၍ သက်ဆိုင်ရာ အခကြေးငွေများ ပေးသွင်းစေလျက် ရင်းနှီးမြှုပ်နှံမှု အဆိုပြုချက်တင်ပြနိုင်ရေး လုပ်ထုံးလုပ်နည်း နှင့်အညီ ဆက်လက်ဆောင်ရွက်သွားနိုင်ရန် (၂၄-၂-၂၀၁၄) ရက်နေ့ ရက်စွဲပါစာဖြင့် ကုမ္ပဏီသို့ အကြောင်းကြားခဲ့ကြောင်း စိစစ် တွေ့ရှိရပါသည်။

(ခ) MEICO မှ ဆိပ်ခံတံတား အမျိုးအစားအနေဖြင့် သံကူကွန်ကရစ် ဆိပ်ခံတံတား၊ အရွယ်အစားအနေဖြင့် မျက်နှာစာအလျား ၂၀၀ မီတာ၊ အကျယ် ၇၅၀ မီတာ အရွယ်ရှိပြီး စုစုပေါင်းဧရိယာအားဖြင့် ၃၇.၀၆ ဧကရှိပြီး၊ ၎င်းဧရိယာအနက် ၁၇ ဧကကို ဆိပ်ကမ်းလုပ်ငန်းနှင့် သက်ဆိုင်သည့် အထောက်အကူပြု အဆောက် အအုံများအား အကောင်အထည်ဖော် ဆောင်ရွက်ရန် ရည်ရွယ်ထားပြီး အဆိုပါ ဆိပ်ကမ်းမြေနေရာကို ကျောထောက်နောက်ခံပြု၍ မြစ်ကမ်းနဖူးတွင် မျက်နှာစာ အလျား ၁၉၀ မီတာ၊ အကျယ် ၃၀ မီတာ အရွယ်ရှိ စားသုံးဆီနှင့် ဆီထွက်သီးနှံ မျိုးစုံကိုင်တွယ်နိုင်မည့် ခေတ်မီအပြည့်ပြည့်ဆိုင်ရာ သံကူကွန်ကရစ် ဆိပ်ခံတံတားတစ်စင်းကို ဆိပ်ကမ်းလွင်ပြင် အရွယ်အစား အလျား ၂၀၀ မီတာ၊ အကျယ် ၂၀၀ မီတာတွင် အကောင်အထည်ဖော် ဆောင်ရွက်မည်ဖြစ်ကြောင်း ပို့ဆောင်ရေးဝန်ကြီးဌာနမှ တင်ပြထားသည်ကို စိစစ် တွေ့ရှိရပါသည်။

၁၆။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ပုဒ်မ ၂၀ပါ(က၊ဂ၊စ၊ဆ၊ဇ၊ည)အရ အခွန်အကောက်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို ကော်မရှင်သို့ တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည် ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ Myanmar Edible Oil Industrial Public Corporation (MEICO) Limited မှ ရန်ကုန်တိုင်းဒေသကြီး၊သန်လျင်-ကျောက်တန်း နယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ် (၂၇) တွင် BOT စနစ်ဖြင့် စားသုံးဆီနှင့် ဆီထွက်သီးနှံကုန်ပစ္စည်းများ တင်/ချ ခေတ်မီဘက်စုံသုံး အပြည့်အစုံ ပြည့်ဆိုင်ရာ ဆိပ်ခံတံတားနှင့်ဆက်စပ်သော စီးပွားရေးအဆောက်အအုံများအား တည်ဆောက်၍ ငှားရမ်းခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် အညီ အဆိုပြုချက် တင်ပြခြင်းကိစ္စအပေါ် ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ-က



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၃ ) / စိုက်မွေး
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ မတ် လ ၁၃ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၃. ၂. ၂၀၁၆)ရက်စွဲပါစာအမှတ်၊ ရက - ၄/ မ-၁၅၃၇/၂၀၁၆(၂၈၁)

၁။ Myanmar Edible Oil Industrial Public Corporation Limited (MEICO)မှ ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ်(၂၇)၊ မြေဧရိယာ(၇၇. ၀၆) ဧကတွင် BOT စနစ်ဖြင့် အပြည်ပြည်ဆိုင်ရာစားသုံးဆီတင်ချဆိပ်ခံတံတားနှင့် ဆက်စပ်အဆောက်အဦများကို တည်ဆောက်၍ ဆိပ်ကမ်းလုပ်ငန်းများ ဆောင်ရွက်ခြင်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေဖြင့် လုပ်ကိုင်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်စပ်လျဉ်း၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား တည်ဆောက်ဆဲကာလတွင်(၂၀၀)ဦးနှင့် တည်ဆောက်ပြီးကာလတွင် (၁၀၀)ဦး၊ စုစုပေါင်း(၃၀၀)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ်(၂၇)၊ မြေဧရိယာ(၇၇. ၀၆) ဧကအား တစ်နှစ်လျှင် ငွေကျပ်(၅၅၅. ၉)သန်းနှုန်း၊ (1sqft=344 kyat, 1sqm=3706 kyat) နှုန်းဖြင့် ကနဦး(၅၀)နှစ်နှင့် (၁၀)နှစ်(၂)ကြိမ် သက်တမ်းတိုး ငှားရမ်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါအချက်များကြောင့် (၁၁. ၃. ၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၁၁/၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ်(၁၂၂)အရ Myanmar Edible Oil Industrial Public Corporation Limited (MEICO)၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ် ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

အတွင်းရေးမှူး၊ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တောင်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
(သန်လျင်/ကျောက်တန်း)မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Myanmar Edible Oil Industrial Public Corporation Limited (MEICO)
လက်ခံစာတွဲ
မျှောစာတွဲ

နောက်ဆက်တွဲ-ခ

ရွန်ကုန်မြို့ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့ စာအမှတ် ...... ရက်စွဲ ......

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊၀၀၁/ MIC(OSS) /၀၁( ၈၀ / ၁၆ )
ရက် စွဲ ၊၂၀၁၆ခုနှစ် မတ် လ ၁၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

MIC-529 10/3

အကြောင်းအရာ။ **Myanmar Edible Oil Industrial Public Corporation Limited မှ BOT စနစ်ဖြင့် အပြည်ပြည်ဆိုင်ရာစားသုံးဆီတင်ချဆိပ်ခံတံတားနှင့် ဆက်စပ်အဆောက်အဦများကို တည်ဆောက်၍ ဆိပ်ကမ်းလုပ်ငန်းများ ဆောင်ရွက်ခြင်းကို ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်း ကိစ္စနှင့်ပတ်သက်၍သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၂-၂-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၄/ မ-၁၅၃၈/ ၂၀၁၆(၂၇၃)

၁။ Myanmar Edible Oil Industrial Public Corporation Limited(MEICO) မှ ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းမြို့နယ်၊ သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ်(၂၇)၊ မြေဧရိယာ ၃၇.၀၆ဧက(၁၄၉၉၇၆စတုရန်းမီတာ)တွင် BOT စနစ်ဖြင့် အပြည်ပြည်ဆိုင်ရာ စားသုံးဆီတင်ချဆိပ်ခံတံတားနှင့်ဆက်စပ်အဆောက်အဦများကို တည်ဆောက်၍ ဆိပ်ကမ်းလုပ်ငန်းများဆောင်ရွက်ခြင်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေဖြင့်လုပ်ကိုင်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍စိစစ်ပြီးသဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့်အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ(၅၀)နှစ်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ(၃)နှစ်ဖြစ်ကြောင်း၊ အလျား ၁၄၀မီတာ၊ အနံ ၃၀မီတာရှိသောဆိပ်ကမ်းနှင့်ပိုသည့်မြေ ၃၇ဧကအား အထောက်အကူပြုဆက်စပ်သည့်အဆောက်အဦကို တည်ဆောက်သွားမည်ဖြစ်ကြောင်း၊ ဆိပ်ကမ်းတွင်တန်နှစ်သောင်းရှိ သင်္ဘောများကိုဆိုက်ကပ်ရန်ရည်ရွယ်ထားပါကြောင်း၊ လုပ်ငန်းခွင်သာယာရေးနှင့်သက်သာချောင်ချိရေးစီမံချက်၊ မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်တားဆီးရေးစီမံချက် များကိုလည်းထားရှိ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

လုပ်ငန်းမှရရှိလာမည့်အသားတင်အမြတ်ငွေ၏ (၁%)ကို လူမှုရေးဆိုင်ရာတာဝန်ခံပူးပေါင်းဆောင်ရွက်မှု(Corporate Social Responsibility-CSR)လုပ်ငန်းများတွင်ထည့်သွင်း အသုံးပြုသွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် ပတ်သက်၍ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment – EIA)အား Myanmar Engineering Society (MES) နှင့် ဆောင်ရွက်ထားပါကြောင်း ဖော်ပြပါရှိပါသည်။

၃။ Myanmar Edible Oil Industrial Public Corporation Limited မှ ဆိပ်ခံတံတားနှင့်ဆက်စပ်အဆောက်အဦများတည်ဆောက်ခြင်းလုပ်ငန်းများကြောင့် လုပ်ငန်းဆောင်ရွက်ရာမှထွက်ရှိလာမည့် ဖုန်မှုန်နှင့်စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုဖြစ်ပေါ်လာနိုင်ခြင်း၊ တည်ဆောက်ရေးစက်ယန္တရား၊ ယာဉ်များမှအသံဆူညံခြင်းနှင့်အခိုးအငွေ့များထုတ်လွှတ်ခြင်းကြောင့် လေထုညစ်ညမ်းခြင်း၊ ဆိုက်ကပ်လာမည့်သင်္ဘောများမှထွက်ရှိလာမည့် စွန့်ပစ်အမှိုက်များ၊ မိလ္လာအညစ်အကြေးများ၊ စွန့်ပစ်စက်သုံးဆီ၊ အင်ဂျင်ဝိုင်များကိုစနစ်တကျစွန့်ပစ်ခြင်းမပြုပါက ပတ်ဝန်းကျင်ရေထု၊ မြေထု၊ လေထုညစ်ညမ်းခြင်းနှင့်ရေနေသတ္တဝါများ၏အသက်ရှင်နေထိုင်မှုကိုထိခိုက်ပျက်စီးစေနိုင်ခြင်း စသည့်ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Myanmar Edible Oil Industrial Public Corporation Limited မှ အပြည်ပြည်ဆိုင်ရာစားသုံးဆီတင်ချဆိပ်ခံတံတားနှင့်ဆက်စပ်အဆောက်အဦများ ဆောက်လုပ်၍ဆိပ်ကမ်းလုပ်ငန်းများဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍အောက်ပါအတိုင်းသဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက်လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီးလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်နည်းစနစ်များအား အသုံးပြုရန်နှင့်အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံပူးပေါင်းဆောင်ရွက်မှု(Corporate Social Responsibility – CSR )အတွက် အသားတင်အမြတ်ငွေ၏ (၁%)အား အသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်

အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး(သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် အဆိုပြုလွှာတွင်တင်ပြထားသော ဆောင်ရွက်ထားရှိသည့် **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း(Environmental Impact Assessment – EIA)**အစီရင်ခံစာကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းနှင့်အညီပြုစုပြီး ဝန်ကြီးဌာနသို့ တင်ပြပြီး အတည်ပြုချက်ရယူဆောင်ရွက်ရန်။

(ဂ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်(Environmental Management Plan - EMP )**အား ရေးဆွဲတင်ပြရန်နှင့်စီမံချက်ပါအတိုင်းအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များ၊ ပို့ဆောင်ရေးဝန်ကြီးဌာန မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ ချမှတ်ထားသော ဥပဒေ၊ နည်းဥပဒေ၊ ညွှန်ကြားချက်များ၊ စည်းကမ်းချက်များနှင့်အညီ လိုက်နာကျင်သုံးအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့်ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ဒုတိယဝန်ကြီး(ပတ်ဝန်းကျင်)
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

နောက်ဆက်တွဲ-ဂ



M3-402
24/2

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**ပို့ဆောင်ရေးဝန်ကြီးဌာန**
**ဝန်ကြီးရုံး**

စာအမှတ်၊ ၅၂-ပဆ/ခွဲ(၁) ၂၀၁၆(Port)(၂/၃၈၁)
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၄ ရက်

အကြောင်းအရာ။ **သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ်(၂၇) တွင် ခေတ်မီအပြည့်ပြည့်ဆိုင်ရာ ဆိပ်ခံတံတားနှင့် ဆက်စပ်အဆောက်အအုံများ အကောင်အထည်ဖော် တည်ဆောက်ကာ BOT စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုရန် ကိစ္စ**

၁။ ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ်(၂၇)အား နိုင်ငံတော်သမ္မတ၏ လမ်းညွှန်ချက်အရ စားသုံးဆီနှင့် ဆီထွက်သီးနှံမျိုးစုံ ကိုင်တွယ်နိုင်မည့် ခေတ်မီအပြည့်ပြည့်ဆိုင်ရာ ဆိပ်ခံတံတားနှင့် အထောက်အကူပြု အဆောက်အအုံများ တည်ဆောက်ကာ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုရန် မြန်မာနိုင်ငံဆီကုန်သည်နှင့် ဆီလုပ်ငန်းရှင်များအသင်းမှဦးစီး၍ အများပိုင် စားသုံးဆီ ကုမ္ပဏီတစ်ခုဖြစ်သော Myanmar Edible Oil Industrial Public Corporation (MEICO) Ltd ကို နေရာချထား ပေးခဲ့ပါသည်။ **နောက်ဆက်တွဲ(က)**

၂။ အဆိုပါ သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ်(၂၇) တွင် စားသုံးဆီနှင့် ဆီထွက်သီးနှံမျိုးစုံ ကိုင်တွယ်နိုင်မည့် ခေတ်မီအပြည့်ပြည့်ဆိုင်ရာဆိပ်ခံတံတားနှင့် အထောက်အကူပြုအဆောက်အအုံများတည်ဆောက်ကာ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုရန် Myanmar Edible Oil Industrial Public Corporation (MEICO) Ltd မှ **နောက်ဆက်တွဲ (ခ)** ပါစာဖြင့် တင်ပြလာပါသည်။

၃။ MEICO အားချထားပေးသည့် သီလဝါဆိပ်ကမ်းဒေသရှိ မြေကွက်အမှတ်(၂၇)မှာ မျက်နှာစာ အလျား ၂၀၀ မီတာ x အကျယ် ၇၅၀ မီတာအရွယ်ရှိပြီး စုစုပေါင်းဧရိယာအားဖြင့် ၃၇.၀၆ ဧကရှိပါသည်။ ၎င်းမြေဧရိယာ ၃၇.၀၆ ဧကရှိသည့်အနက် မြေဧရိယာ ၁၇ ဧကကို ဆိပ်ကမ်းလုပ်ငန်းနှင့် သက်ဆိုင်သည့် အထောက်အကူပြုအဆောက်အအုံများအား အကောင်အထည်ဖော်ဆောင်ရွက်ရန် ရည်ရွယ်ထားပြီး အဆိုပါဆိပ်ကမ်းမြေနေရာကို ကျော်ထောက်နောက်ခံပြု၍ မြစ်ကမ်းနဖူးတွင် မျက်နှာစာ အလျား ၁၉၀ မီတာ x အကျယ် ၃၀ မီတာအရွယ်ရှိ စားသုံးဆီနှင့် ဆီထွက်သီးနှံမျိုးစုံ ကိုင်တွယ်နိုင်မည့် ခေတ်မီအပြည့်ပြည့်ဆိုင်ရာ ဆိပ်ခံတံတားတစ်စင်းကို အကောင်အထည်ဖော် တည်ဆောက်ရန် ရည်ရွယ်ထားကြောင်း တင်ပြထားပါသည်။

၄။ MEICO အနေဖြင့် ခေတ်မီအပြည့်ပြည့်ဆိုင်ရာ ဆိပ်ခံတံတားတစ်စင်းကိုတည်ဆောက်ပြီး ကုန်သေတ္တာကိုင်တွယ်မှုလုပ်ငန်းများကိုပါ ဆောင်ရွက်ခွင့်ပြုရန် တင်ပြထားသော်လည်း ယခုလက်ရှိ အခြေအနေတွင် ၎င်းတို့ကုမ္ပဏီနှင့်သက်ဆိုင်သော စားသုံးဆီနှင့်ဆီထွက်သီးနှံမျိုးစုံ သယ်ယူပို့ဆောင်နိုင်သည့် ကုန်သေတ္တာများကိုသာ ကိုင်တွယ်ခွင့်ပြုနိုင်မည်ဖြစ်ပြီး အခြားကုန်စည်များအတွက် ခွင့်ပြုပေးနိုင်မည်မဟုတ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၅။ ထို့အပြင် မြေဧရိယာ(၂၀.၀၆)ဧကပေါ်တွင် စီးပွားရေးလုပ်ငန်းဆောင်တာများ (Commercial Activities)ဖြစ်သော ဆီထွက်သီးနှံကုန်ကြမ်းများမှ စားသုံးဆီကုန်ချောထုတ်လုပ်မှုလုပ်ငန်းများ၊ နိုင်ငံတကာအဆင့်မီဆီစက်များ၊ Refinery Plant နှင့် Solvent Plant များ၊ ထုတ်ပိုးဖြန့်ချိရေးလုပ်ငန်းများ၊ ဆီသိုလှောင်ကန်များစသည့် ဆက်စပ်စီးပွားရေးလုပ်ငန်းများနှင့် အထောက်အကူပြုအဆောက်အအုံများ အကောင်အထည်ဖော် တည်ဆောက်ထားရန် ရည်ရွယ်ထားကြောင်း တင်ပြထားပါသည်။

၆။ MEICO အနေဖြင့် စီမံကိန်းလုပ်ငန်းအတွက် မြန်မာကျပ်ငွေ ၂၄,၄၀၄.၉၀ သန်းနှင့် အမေရိကန်ဒေါ်လာ ၃၀.၁၃၅ သန်း ရင်းနှီးမြှုပ်နှံ ဆောင်ရွက်သွားမည်ဖြစ်ကြောင်းနှင့် အဆိုပါ စီမံကိန်းလုပ်ငန်းတစ်ခုလုံးကို (၃)နှစ်အတွင်း ပြီးစီးအောင် တည်ဆောက်သွားမည်ဖြစ်ပြီး ပထမအဆင့် စီမံကိန်းလုပ်ငန်းများကို ခွင့်ပြုချက်ရရှိပြီး (၁၈)လအတွင်း ပြီးစီးအောင် တည်ဆောက်သွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၇။ MEICO သည် အောက်ဖော်ပြပါ ခေတ်မီ အပြည့်ပြည့်ဆိုင်ရာ ဆိပ်ခံတံတား နှင့် ဆိပ်ကမ်းလုပ်ငန်းဆိုင်ရာ အထောက်အကူပြု အဆောက်အအုံများ တည်ဆောက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်-

| | | |
|---|---|---|
| (က) | ဆိပ်ခံတံတားတည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသ |
| (ခ) | မြေကွက်အမှတ် | - မြေကွက်အမှတ်(၂၇) |
| (ဂ) | မြေကွက်အရွယ်အစား | - မျက်နှာစာအလျား ၂၀၀ မီတာ၊ အကျယ် ၇၅၀ မီတာ (ဧရိယာ ၃၇.၀၆ ဧက) |
| (ဃ) | ဆိပ်ခံတံတားအမျိုးအစား | - သံကူကွန်ကရစ်ဆိပ်ခံတံတား |
| (င) | ဆိပ်ခံတံတားအရွယ်အစား | - မျက်နှာစာအလျား ၁၉၀ မီတာ၊ အကျယ် ၃၀ မီတာ |
| (စ) | ဆိပ်ကမ်းလွင်ပြင်အရွယ်အစား | - အလျား ၂၀၀ မီတာ၊ အကျယ် ၂၀၀ မီတာ |
| (ဆ) | မြေငှားကာလ/လုပ်ငန်းလုပ်ကိုင်ခွင့်ကာလ | - ကနဦး (၅၀)နှစ်နှင့် နောက်ထပ်(၁၀) နှစ် (၂)ကြိမ် တိုးမြှင့်ခွင့်ဖြင့် စုစုပေါင်း (၇၀) နှစ် |

၈။ MEICO အနေဖြင့် သီလဝါဆိပ်ကမ်းဒေသရှိ ဧရိယာအားဖြင့် ၃၇.၀၆ ဧကအကျယ်အဝန်းရှိ မြေကွက်အမှတ် (၂၇)အား ငှားရမ်းခြင်းအတွက် မြေအသုံးချမှုပရီမီယံကြေးအဖြစ် မြေတစ်ဧကလျှင် ငွေကျပ် (၁၅၀)သိန်းနှုန်းဖြင့် စုစုပေါင်းကျသင့်ငွေကျပ် ၅၅၅,၉၀၀,၀၀၀/- ကို အရစ်(၂)ရစ်ခွဲ၍ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်ထံ ပေးသွင်းစေရမည်ဖြစ်ပါသည်။

၉။ ထို့အပြင် ငှားရမ်းမည့် မြေနှင့်ပတ်သက်၍ အောက်ဖော်ပြပါအတိုင်း လစဉ်မြေငှားရမ်းခကို စုစုပေါင်းဝင်ငွေ (Gross Revenue)အပေါ် နှစ်အပိုင်းအခြားအလိုက် တစ်ဆထက်တစ်ဆ တိုးမြှင့်၍ ပေးဆောင်စေမည် ဖြစ်ပါသည် -

| လုပ်ငန်းဆောင်ရွက်သောနှစ် | ငှားရမ်းခပေးဆောင်ရမည့် နှုန်းထား (စုစုပေါင်းဝင်ငွေအပေါ်) |
|---|---|
| (က) ပထမနှစ်မှ (၁၀) နှစ်မြောက်အထိ | ၆ % |
| (ခ) (၁၁) နှစ်မှ (၂၀) နှစ်မြောက်အထိ | ၁၂ % |
| (ဂ) (၂၁) နှစ်မှ (၃၅) နှစ်မြောက်အထိ | ၁၈ % |
| (ဃ) (၃၆) နှစ်မြောက်မှ အထက် | ၂၀ % |

၁၀။ ထိုကဲ့သို့ စုစုပေါင်းဝင်ငွေ(Gross Revenue) တွက်ချက်ရာတွင် သင်္ဘောဆိုက်ကပ်ခ၊ တံတားဖြတ်သန်းခ၊ ကုန်စည်သိုလှောင်ခ၊ ကုန်နှောင့်နှေးကြန့်ကြာကြေးဝင်ငွေ၊ ကုန်ကိုင်တွယ်မှုလုပ်ငန်းများမှရရှိသည့် ဝင်ငွေများ၊ မြေငှားရမ်းခဝင်ငွေများနှင့် စီမံကိန်းနှင့်ဆက်စပ်လုပ်ငန်းများ ဆောင်ရွက်ခြင်းမှရရှိသည့် အခြားဝင်ငွေများအားလုံးပါဝင်မည်ဖြစ်ပါသည်။

၁၁။ စုစုပေါင်းဝင်ငွေ (Gross Revenue) တွက်ချက်ရာတွင်ပါဝင်သည့် မြေငှားရမ်းခဝင်ငွေ၌ စီးပွားရေးလုပ်ငန်းဆောင်တာများ (Commercial Activities) ဆောင်ရွက်ရန်လျာထားသည့် မြေဧရိယာ(၂၀.၀၆)ဧကအတွက် တစ်နှစ်လျှင် မြေတစ်ဧကကိုငွေကျပ် ၆,၄၈၆,၄၉၀/ နှုန်းဖြင့်တွက်ချက်ရရှိသည့် စုစုပေါင်းငွေပမာဏကျပ် ၁၃၁,၁၁၈,၉၈၉/(သို့မဟုတ်) ရင်းနှီးမြှုပ်နှံသူများထံ အမှန်တကယ် ထပ်ဆင့်မြေငှားရမ်းခြင်းမှရရှိသည့် စုစုပေါင်းဝင်ငွေအပေါ်တွင် သက်ဆိုင်ရာနှစ်အလိုက်သတ်မှတ်ရာခိုင်နှုန်းအရ ကောက်ခံရရှိသည့်ဝင်ငွေ ထိုငွေပမာဏနှစ်ရပ်အနက် များရာအပေါ် တွက်ချက်ပေးဆောင်စေမည်ဖြစ်ပါသည်။ ထိုကဲ့သို့သတ်မှတ်ထားခြင်းမှာ MEICO အနေဖြင့် ရင်းနှီးမြှုပ်နှံသူများထံ ထပ်ဆင့်မြေငှားရမ်းနိုင်ခြင်းမရှိပါက အထက်စာပိုဒ်၊ ၉ နှင့် စာပိုဒ်၊ ၁၀ အရ ပေးဆောင်ရမည့် မြေငှားရမ်းခအပြင် မြေဧရိယာ ၂၀.၀၆ ဧက အတွက်နှစ်စဉ် ပုံမှန်မြေငှားရမ်းခဝင်ငွေအဖြစ် ငွေကျပ် ၁၃၀,၁၁၈,၉၈၉.၀၀ ထည့်သွင်းတွက်ချက်၍ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ ပေးဆောင်စေမည်ဖြစ်ပါသည်။

၁၂။ MEICO အား လုပ်ငန်းလုပ်ကိုင်ခွင့်ပြုခြင်းနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လုပ်ငန်းလုပ်ကိုင်ခွင့်ကာလ/ မြေငှားကာလကို ကနဦး(၅၀)နှစ်နှင့် နောက်ထပ်သက်တမ်းတစ်ကြိမ်လျှင် (၁၀)နှစ်နှင့် သက်တမ်း (၂)ကြိမ် တိုးမြှင့်ခွင့်ပြုရန်ဖြစ်ပါသည်။

၁၃။ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် MEICO တို့အကြား ချုပ်ဆိုမည့် ပဋိညာဉ်စာချုပ် (BOT Contract) နှင့် မြေငှားစာချုပ် (Land Lease Agreement)တို့ကို ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့် အကြံပြုချက်များ တောင်းခံထားပြီး ဖြစ်ပါသည်။ ပြည်ထောင်စုရှေ့နေချုပ်ရုံး

၏ သဘောထားမှတ်ချက်နှင့် အကြံပြုချက်များအတိုင်း ပြုစုထားသော သဘောတူစာချုပ်မူကြမ်းများကို **နောက်ဆက်တွဲ (ဂ)** ဖြင့် ပူးတွဲတင်ပြပါသည်။

၁၄။ အဆိုပါကိစ္စအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြရန် ၂၄.၁၁.၂၀၁၅ ရက်နေ့တွင် ကျင်းပပြုလုပ်သော ပို့ဆောင်ရေးဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီ အစည်းအဝေး အမှတ်စဉ်၊ ၁၉/၂၀၁၅ က သဘောတူထားပြီး ဖြစ်ပါသည်။

၁၅။ MEICO သည် ကျောထောက်နောက်ခံမြေ (၂၀.၀၆)ဧကပေါ်တွင် စီးပွားရေးဆိုင်ရာ လုပ်ငန်းဆောင်တာများ (Commercial Activities)များကို အကောင်အထည်ဖော်ဆောင်ရွက်ခွင့်ပြုရန် ကိစ္စအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ထပ်မံတင်ပြ၍ ခွင့်ပြုချက်ရယူကာ အခြားရင်းနှီးမြှုပ်နှံသူများသို့ တစ်ဆင့်ငှားရမ်းခွင့်ပြုရန်ဖြစ်ပါသည်။ ထိုကဲ့သို့ နိုင်ငံခြားသား(သို့မဟုတ်) နိုင်ငံခြားသားနှင့် ဖက်စပ်ဆောင်ရွက်မည့် ရင်းနှီးမြှုပ်နှံသူများအား မြေကို ထပ်ဆင့်အငှားချထားမည်ဆိုပါက အဆိုပါစီးပွားရေးလုပ်ငန်းဆောင်တာများအတွက်ကိုမူ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေနှင့် လုပ်ထုံးလုပ်နည်းများနှင့်အညီ ခွင့်ပြုရန်ဖြစ်ပါသည်။

၁၆။ သီလဝါဆိပ်ကမ်းဒေသတွင် MEICO အားအငှားချထားပေးသည့် မြေကွက်နေရာများတွင် လယ်ယာလုပ်ကိုင်လျက်ရှိသော လယ်သမားများအတွက် ကရုဏာထောက်ပံ့ကြေးငွေများကို MEICO က ညှိနှိုင်းဆောင်ရွက်ပေးပြီးဖြစ်ကြောင်း သိရှိရပါသည်။

၁၇။ သို့ဖြစ်ပါ၍ Myanmar Edible Oil Industrial Public Corporation (MEICO) Ltd အား ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသရှိ မြေကွက်အမှတ် (၂၇)ကို ကျောထောက်နောက်ခံပြု၍ မြစ်ကမ်းနဖူးတွင် စားသုံးဆီနှင့်ဆီထွက်သီးနှံမျိုးစုံ ကိုင်တွယ်မည့် အပြည်ပြည်ဆိုင်ရာဆိပ်ခံတံတားနှင့် အထောက်အကူပြု အဆောက်အအုံများတည်ဆောက်ကာ ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်းလုပ်ကိုင် ဆောင်ရွက်ခွင့်ပြုနိုင်ပါရန်နှင့် ထိုကဲ့သို့ဆောင်ရွက်ခွင့်ပြုခြင်းအတွက် အထက်စာပိုဒ်၊ ၈ ပါ မြေအသုံးချမှုပရီမီယံကြေးကိုပေးဆောင်စေ၍လည်းကောင်း၊ အထက်စာပိုဒ်၊ ၉ နှင့် ၁၁ ပါ နှစ်စဉ်မြေငှားရမ်းကိုပေးဆောင်စေ၍လည်းကောင်း၊လုပ်ငန်းလုပ်ကိုင်ခွင့်ကာလသက်တမ်း/မြေငှားရမ်းကာလသက်တမ်းကို ကနဦး(၅၀)နှစ်နှင့် နောက်ထပ် သက်တမ်းတစ်ကြိမ်လျှင် (၁၀)နှစ်နှင့် သက်တမ်း (၂)ကြိမ် တိုးမြှင့်ခွင့်ပြုသည့်စနစ်ဖြင့်လည်းကောင်း မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေများနှင့်အညီ BOT စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင် ဆောင်ရွက်ခွင့်ပြုနိုင်ပါရန် တင်ပြအပ်ပါသည်။

ဉာဏ်ထွန်းအောင်
ပြည်ထောင်စုဝန်ကြီး

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

\\motdata\D\KHWE-I (WATER TRANSPORT)\2016\MPA\52 - PA SA (PORT).doc

